

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ်၊ မနသ ၁၁၅၁/၂၀၁၆ ။ ၂၀၁၆ ခုနှစ် မတ်လ ၂၆ ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂(ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်-

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဦးသန်းညွန့်

(ခ) အဘအမည် ဦးလှရွှေ

(ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/ လမတ (နိုင်) ၀၂၆၀၅၀

(ဃ) နေရပ်လိပ်စာ အမှတ်-၃၇၊ ပထမထပ်၊ (၈)လမ်း၊ (၃)ရပ်ကွက်၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း အောင်ဦးသစ်အခြေခံစက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် (Aung Oo Wood Industry Company Limited)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်းအမျိုးအစား ရာဘာပင်အိုသစ်များအား လေးဘက်ချော သစ်အဖြစ် ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ) မွန်ပြည်နယ်၊ သထုံခရိုင်၊ ကျိုက်ထိုမြို့နယ်၊ ကော့ဘိန်းကျေးရွာအုပ်စု၊ ကွင်းအမှတ်-၁၄၇/ စမိတ်ကွင်း၊ ဦးပိုင်အမှတ် (၆/၁) ရှိ စုစုပေါင်း မြေ ဧရိယာ ၃.၀၃ ဧက

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ၁၁၀၆.၈၀၅ သန်း (အမေရိကန်ဒေါ်လာ ၀.၅၁ သန်း အပါအဝင် စုစုပေါင်း ကျပ် တစ်ထောင်တစ်ရာ့ခြောက်သန်းနှင့် ရှစ်သိန်းငါးထောင်တိတိ)

(ဈ) တည်ဆောက်မှုကာလ ၂ နှစ်

ဥက္ကဋ္ဌ

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ ၅၀ / ၂၀၁၆ (မနသ)

၂၀၁၆ ခုနှစ် မတ်လ ၂၆ ရက်

၁။ မြန်မာကုမ္ပဏီဖြစ်သော အောင်ဦး သစ်အခြေခံစက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက် ( Aung Oo Wood Industry Company Limited) သည် မွန်ပြည်နယ် ၊ သထုံခရိုင်၊ ကျိုက်ထိုမြို့နယ်၊ ကော့ဘိန်း ကျေးရွာအုပ်စု၊ ကွင်းအမှတ်-၁၄၇/စမိတ်ကွင်း၊ ဦးပိုင်အမှတ်(၆/၁) ရှိ စုစုပေါင်းမြေ အကျယ်အဝန်း ၃.၀၃ဧက ( ၁၂၂၆၁.၉၈၅၈ စတုရန်းမီတာ) အား ငှားရမ်း၍ ရာဘာပင်အိုသစ်များ အား လေးဘက်ချောသစ်အဖြစ် ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးသန်းညွန့် (အဘ-ဦးလှရွှေ) မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြချက်အား၂၀၁၆ ခုနှစ် မတ်လ ၁၁ ရက် နေ့တွင် ကျင်းပသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏(၉/၂၀၁၆) ကြိမ်မြောက် အစည်း အဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ အစည်းအဝေး ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ၁၂(ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် အောင်ဦး သစ်အခြေခံစက်မှု လုပ်ငန်း ကုမ္ပဏီလီမိတက် ( Aung Oo Wood Industry Company Limited) အား ရာဘာပင် အိုသစ်များအား လေးဘက်ချောသစ်အဖြစ် ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်နိုင် ရန် အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ- ၁၁၅၁/၂၀၁၆ ကို ထုတ်ပေးလိုက်သည်။

၂။ အောင်ဦး သစ်အခြေခံစက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက် ( Aung Oo Wood Industry Company Limited) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်းဆောင်ရွက်ရာတွင် မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၁)အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန် လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က) အရ ထုတ်လုပ်မှုလုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း (၅) နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန်

ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်ခံစားနိုင်ရန် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည်ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(ဃ) အရ လုပ်ငန်းမှ ထုတ်လုပ်သည့် ပစ္စည်းကို ပြည်ပသို့ တင်ပို့ရောင်းချလျှင် ထိုသို့ တင်ပို့ရောင်းချ၍ ရရှိသော အမြတ်ငွေပေါ်တွင် ၅၀ ရာခိုင်နှုန်းအထိ ဝင်ငွေခွန်သက်သာခွင့်ပြုသည်။

(ဃ) ဥပဒေပုဒ်မ ၂၀(စ) အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ် ပေါ်ပေါက်သည့်အရှုံးငွေကို ယင်းသို့အရှုံးပေါ်ပေါက်သည့် နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကိုဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဆ) အရ လုပ်ငန်းစတင် တည်ဆောက်မှုကာလအတွင်း အမှန်တကယ် အသုံးပြုရန်လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင်တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရ မည်။

(စ) ဥပဒေပုဒ်မ ၂၀(ဇ) အရ ဝင်ငွေခွန်စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်း စက်ကိရိယာ၊ အဆောက်အအုံ သို့မဟုတ် လုပ်ငန်းသုံး အခြားမတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်ကသတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုး လျော့တွက်နှုန်းများ အတိုင်းတွက်ချက်ပြီး ပစ္စည်းတန်ဖိုးလျော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထား ရမည်။

(ဆ) ဥပဒေပုဒ်မ ၂၀(ည) အရ ရင်းနှီးမြှုပ်နှံမှုပမာဏတိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ်အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသောယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာ များ၊ အသုံးအဆောင်တန်ဆာပလာများ၊ စက်ကိရိယာအစိတ်အပိုင်းများ၊ စက်အရန်

ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဓ) ဥပဒေပုဒ်မ ၂၀(ဋ) အရ ပြည်ပသို့တင်ပို့ရန် ထုတ်လုပ်သည့် ပစ္စည်းများအပေါ် ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀(ဆ) အရ ပြည်ပမှ တင်သွင်းသည့် ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင် တန်ဆာပလာများ၊ စက်ကိရိယာ အစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများသင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် လိုက်နာဆောင်ရွက်ရမည်။

၄။ အောင်ဦး သစ်အခြေခံစက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက် ( Aung Oo Wood Industry Company Limited) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မူလ အဆိုပြုလွှာ၌ ဖော်ပြထားသည့် **ထုတ်လုပ်မှုနှင့် ပြည်တွင်းရောင်းချမှု ရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်း ချက်များ** အဖြစ် ထားရှိ ဆောင်ရွက်အကောင်အထည်ဖော်ရမည်။

၅။ အောင်ဦး သစ်အခြေခံစက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက် ( Aung Oo Wood Industry Company Limited) သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၆။ အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့်စပ်လျဉ်း၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာလိုက်နာ ဆောင်ရွက်ရမည်။

၇။ အောင်ဦး သစ်အခြေခံစက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက် ( Aung Oo Wood Industry Company Limited) သည် အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုနှင့် လူမှုရေး ထိခိုက်မှု အနည်းဆုံးဖြစ်စေရေးတို့အတွက် ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination-IEE) နှင့် ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး စီမံချက် (Environmental Management Plan-EMP) ကို ရေးဆွဲတင်ပြပြီး ယင်းဆောင်ရွက်ပြီးစီးမှု

အခြေအနေကို ကော်မရှင်နှင့် သက်ဆိုင်ရာ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီး ဌာနတို့သို့ ပေးပို့အစီရင်ခံ ရမည်။

၈။ အောင်ဦး သစ်အခြေခံစက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက် ( Aung Oo Wood Industry Company Limited) သည် ထုတ်လုပ်မှု နည်းပညာ၊ ထုတ်လုပ်မှုအရည်အသွေး၊ ဈေးကွက်ပိုင်း ဆိုင် ရာတို့နှင့်စပ်လျဉ်း၍ အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း အကောင်အထည်ဖော် ဆောင် ရွက်ရမည်။

၉။ အောင်ဦး သစ်အခြေခံစက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက် ( Aung Oo Wood Industry Company Limited) မှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့်ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း (၁၀)၊ ပုဒ်မ ၁၉(ဂ)ပါ သတ်မှတ်ချက်နှင့်အညီ ဤကော်မရှင်သို့ သီးခြားတင်ပြ လျှောက်ထားရမည်။ ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေးဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထားဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာ ရေးနှင့် စာရင်းဇယား စနစ်တကျရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့် အတိုင်း စီစဉ် ဆောင်ရွက်ရမည်။

၁၀။ အောင်ဦး သစ်အခြေခံစက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက် ( Aung Oo Wood Industry Company Limited) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်းဆောင်ရွက်ရာ၌ မီးဘေး အန္တရာယ်စသည်များ မဖြစ်ပေါ်စေရေးအတွက် လိုအပ်သည့် မီးဘေးအန္တရာယ်ထိန်းသိမ်းကာ ကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက် ရမည် ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ ဥပဒေများ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြား ချက် များနှင့် အမိန့်များကို တိကျစွာလိုက်နာ ဆောင်ရွက်ရမည်။ ထို့အပြင် ရေသိုလှောင်ကန်၊ မီးသတ် ဆေးဘူး များကဲ့သို့ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်မှု ဆောင်ရွက်ချက်များကို ဆောင်ရွက် ရမည်ဖြစ်ပြီး မီးငြိမ်းသတ်ရေး လုပ်ငန်းသုံးပစ္စည်းများ အသုံးပြုတတ်စေရန်အတွက် သင်တန်း များပေးရ မည်။

၁၁။ အောင်ဦး သစ်အခြေခံစက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက် ( Aung Oo Wood Industry Company Limited) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်းဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှုများ မဖြစ်ပေါ်စေရေးအတွက် လိုအပ်သည့် ပတ်ဝန်းကျင်

ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျ ထားရှိဆောင်ရွက်ရမည် ဖြစ်ပြီး နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ အခြားသော ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံး လုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၂။ အောင်ဦး သစ်အခြေခံစက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက် ( Aung Oo Wood Industry Company Limited) သည် ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေအရ ပြည်နယ်/တိုင်းဒေသကြီး စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနတွင် ပုဂ္ဂလိကစက်မှုလုပ်ငန်း မှတ်ပုံတင်ထားရှိ ဆောင်ရွက်ရမည်။

၁၃။ အောင်ဦး သစ်အခြေခံစက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက် ( Aung Oo Wood Industry Company Limited) သည် ကနဦး လုပ်ငန်းဆောင်ရွက်မှုအစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး) လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန် ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ်စတင် ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်) လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၄။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင်ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှုပမာဏ၊ ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် နေရပ်ဒေသလိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏အဖွဲ့အစည်းနေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်)တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြုခွင့်ပြုချက်ကို ရယူရမည်။

၁၅။ အောင်ဦး သစ်အခြေခံစက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက် ( Aung Oo Wood Industry Company Limited) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာန များမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာရမည်။

၁၆။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့်နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြားအဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်းမရှိစေရ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ထုတ်ပေးထား သောခွင့်ပြုမိန့်၊ သက်ဆိုင်ရာဌာနများမှ ထုတ်ပေးထားသော လုပ်ငန်းလိုင်စင်များနှင့် မြန်မာ နိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှတင်သွင်းသည့် ပစ္စည်းများကို တစ်ခြင်

လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ အဆိုပြုလုပ်ငန်းကို နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြားအဖွဲ့အစည်းကပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့်၊ လုပ်ငန်းလိုင်စင်များနှင့် ပြည်ပမှ တင်သွင်းသည့်ပစ္စည်းများကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း၊ ရောင်းချကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလိုအရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာအစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၃၂ (င) အရ နောင်တွင်မည်သည့်ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက်စီးပွားရေး လုပ်ငန်းစာရင်း၌ ထည့်သွင်းသည်အထိ အရေးယူခြင်းခံရမည်။

၁၇။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင် ဆောင်ရွက်ခြင်းမပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက်ပျက်ပြယ်ပြီးဖြစ်သည်ဟုမှတ်ယူ ရမည်။

၂၆/၁၂

(ဇေယျာအောင်)
ဥက္ကဋ္ဌ

စာအမှတ်၊ ရက- ၂/ မ-၂၃၂/၂၀၁၆ ( ၂၇၃ - ၁ )
ရက်စွဲ ၊ ၂၀၁၆ ခုနှစ် မတ်လ ၂၆ ရက်

**ဖြန့်ဝေခြင်း -**

သမ္မတဦးစီးရုံး
ဒုတိယသမ္မတ(၁)ဦးစီးရုံး
ဒုတိယသမ္မတ(၂)ဦးစီးရုံး
ပြည်ထောင်စုအစိုးရအဖွဲ့ရုံး
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ
ပြည်ထဲရေးဝန်ကြီးဌာန
လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန
ဆက်သွယ်ရေးနှင့် သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန
လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန
စက်မှုဝန်ကြီးဌာန
စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန
ဘဏ္ဍာရေးဝန်ကြီးဌာန
အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန
ဆောက်လုပ်ရေးဝန်ကြီးဌာန
အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန
မြန်မာနိုင်ငံတော်ဗဟိုဘဏ်
မွန်ပြည်နယ်အစိုးရအဖွဲ့ရုံး
ညွှန်ကြားရေးမှူးချုပ်၊ မီးသတ်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကြေးတိုင်နှင့်မြေစာရင်းဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့လျှပ်စစ်ဓါတ်အားလုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း
ဥက္ကဋ္ဌ၊ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်
အုပ်ချုပ်မှုဒါရိုက်တာ၊ အောင်ဦး သစ်အခြေခံ စက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက် (Aung Oo Wood Industry Company Limited)

ကုမ္ပဏီအမည် - Aung Oo Wood Industry Company Limited
(အောင်ဦးသစ်အခြေခံစက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်)

လုပ်ငန်း - ရာဘာပင်အို သစ်များအား လေးဘက်ချော သစ်အဖြစ် ထုတ်လုပ် ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၂၅-၁-၂၀၁၆ | | |
| ၂ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) မွန်ပြည်နယ်အစိုးရအဖွဲ့ရုံး | ၄-၂-၂၀၁၆ | ၁၆-၂-၂၀၁၆ | |
| | (ခ) ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာန | ၄-၂-၂၀၁၆ | | |
| | (ဂ) လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန | ၄-၂-၂၀၁၆ | ၂၅-၂-၂၀၁၆ | |
| | (ဂ) စက်မှုဝန်ကြီးဌာန | ၄-၂-၂၀၁၆ | ၁၅-၂-၂၀၁၆ | |
| ၃ | PAT တင်ပြခြင်း | ၁-၂-၂၀၁၆<br>၅/၂၀၁၆ | | |
| ၄ | PAT လက်ခံကြောင်းပြန်ကြားခြင်း | ၂-၂-၂၀၁၆ | | |
| ၅ | ကုမ္ပဏီမှ အဆိုပြုချက်များပေးပို့ခြင်း | ၈-၃-၂၀၁၆ | | |
| ၆ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အစည်းအဝေးသို့ တင်ပြရန်ပြုစုခြင်း | ၁-၃-၂၀၁၆ | | |
| | စုစုပေါင်းကြာမြင့်ချိန် | (၄၇) ရက် | | |

ကုမ္ပဏီအမည် - Aung Oo Wood Industry Company Limited
(အောင်ဦးသစ်အခြေခံစက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်)

အဖွဲ့အစည်းပုံသဏ္ဌာန် - ရခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု

လုပ်ငန်းအမျိုးအစား - ရာဘာပင်အို သစ်များအား လေးဘက်ချော သစ်အဖြစ် ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း

တည်နေရာ - ဦးပိုင်အမှတ်- ၆/၁၊ ကွင်းအမှတ်-၁၄၇/စမိတ်ကွင်း၊ ကော့ဘိန်း ကျေးရွာအုပ်စု၊ ကျိုက်ထိုမြို့နယ်၊ သထုံခရိုင်၊ မွန်ပြည်နယ်ရှိ မြေ ၃.၀၃ ဧက

စုစုပေါင်းရင်းနှီးမြှုပ်နှံမှု- ကျပ် ၁၁၀၆.၈၀ သန်း

လုပ်ငန်းသက်တမ်း - ကနဦး နှစ် ၅၀ နှင့် ၁၀ နှစ် ၂ ကြိမ်

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်းလစာ(တစ်နှစ်) | ၂.၁၆၀ | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၆.၁၂၃ | |
| ၄ | ဝင်ငွေခွန် | ၁၅၃.၅၇ | ၂၄၂၇.၆၀၆ |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | ၆၂၅.၁၉ | ၃၈၇၃.၄၄၃ |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | | ၈၇.၀၀၀ |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | တစ်နှစ်ဝင်ငွေကျပ်သိန်းနှစ်ဆယ်ထက် ကျော်ပါ အခွန်ပေးရမည့် ဝန်ထမ်း (၈)ဦး |
| ၈ | CSR (၂%) | | ၁၄၅.၆၅၂ |
| ၉ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်းဝန်ထမ်း ၂၂ ဦး အလုပ်အကိုင်ရရှိမည် ဖြစ်ပါသည်။ |
| | စုစုပေါင်း | ၇၈၇.၀၄၃ | ၆၅၃၄.၈၆၆ |
| ၁၀ | Cost : Benefit | ၁ : ၈ | |

အကြောင်းအရာ။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် Aung Oo Wood Industry Company Limited မှ သစ်အခြေခံ စက်မှု ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းဆောင်ရွက် ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - အောင်ဦး သစ်အခြေခံစက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက် |
| | ကမကထပြုသူ | - ဦးသန်းညွန့် (အဘ-ဦးလှရွှေ) |
| ၂။ | အဖွဲ့အစည်းပုံသဏ္ဌာန် | - မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| ၃။ | လုပ်ငန်းအမျိုးအစား | - ရာဘာပင်အိုသစ်များအား လေးဘက်ချောသစ်အဖြစ် ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း |
| ၄။ | လုပ်ငန်းတည်နေရာ | - ဦးပိုင်အမှတ်-၆/၁၊ကွင်းအမှတ်-၁၄၇/စမိတ်ကွင်း၊ ကော့ဘိန်းကျေးရွာအုပ်စု၊ ကျိုက်ထိုမြို့နယ်၊ သထုံခရိုင်၊ မွန်ပြည်နယ် |
| | မြေပိုင်ရှင် | - ဦးသန်းညွန့် |
| | မြေအကျယ်အဝန်း | - ၃.၀၃ဧက ( ၁၂၂၆၁.၉၈၅၈ စတုရန်းမီတာ) |
| ၅။ | မြေငှားရမ်းခ | - ကုမ္ပဏီဒါရိုက်တာ ဦးသန်းညွန့် အမည်ဖြင့် အမည်ပေါက် ရရှိထားသောမြေပေါ်တွင် လုပ်ငန်း ဆောင်ရွက်ခြင်းဖြစ်ပါသည်။ |
| | မြေငှားရမ်းကာလ | - မရှိပါ။ |
| | လုပ်ငန်းသက်တမ်း | - ကနဦး နှစ် ၅၀ နှင့် ၁၀ နှစ် ၂ ကြိမ် |
| ၆။ | တည်ဆောက်ရေးကာလ | - ၂ နှစ် |
| ၇။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၁၁၀၆.၈၀ သန်း |

| | | ကျပ် (သန်း) |
|---|---|---|
| (က) | ငွေသား | ၁၀၀.၀၀ |
| (ခ) | စက်ပစ္စည်း | ၆၁၂.၃၆ (US$ ၀.၅၁သန်းအပါအဝင်) |
| (ဂ) | မြေ/အဆောက်အဦ | ၃၈၄.၈၄ |
| (ဃ) | ပရိဘောဂနှင့်လုပ်ငန်းသုံး ပစ္စည်းများ | ၉.၆၀ |
| | စုစုပေါင်း | ၁၁၀၆.၈၀ (US$ ၀.၅၁ သန်းအပါအဝင်) |

<table>
<tr><td>၈။</td><td>ပြည်ပမှ အခွန်အကောက် ကင်းလွတ်ခွင့်ဖြင့် တင်သွင်းလိုသည့် စက်ပစ္စည်းများ</td><td>- ပြည်ပမှတည်ဆောက်မှုကာလအတွင်း တင်သွင်းမည့် စက်ပစ္စည်းနှင့် လုပ်ငန်းသုံးပစ္စည်းများကို တင်ပြထားပါသည်။</td></tr>
<tr><td>၉။</td><td>ဝန်ထမ်းအင်အား</td><td>- စုစုပေါင်း ၇၃ ဦး</td></tr>
<tr><td></td><td>ပြည်တွင်း</td><td>- ၆၉ ဦး<br>(အမြင့်ဆုံး လစာမှာ ကျပ် ၃၀၀,၀၀၀ ဖြစ်ပြီး အနိမ့်ဆုံးလစာမှာ ၁၂၀,၀၀၀ဖြစ်ပါသည်။)</td></tr>
<tr><td></td><td>ပြည်ပ</td><td>- ၄ ဦး (လစာမှာ US$ ၂,၀၀၀ ဖြစ်ပါသည်။)</td></tr>
<tr><td>၁၀။</td><td>ရောင်းချမည့် နည်းစနစ်</td><td>- ပြည်ပ ၅၀% နှင့် ပြည်တွင်း ၅၀%</td></tr>
<tr><td>၁၁။</td><td>ကုမ္ပဏီ၏ဝင်ငွေ(ဆဋ္ဌမနှစ်)</td><td>- ကျပ် ၃,၁၂၃.၇၅ သန်း</td></tr>
<tr><td></td><td>ကုမ္ပဏီ၏ အသုံးစရိတ်</td><td>- ကျပ် ၂၇၉၅.၇၆ သန်း</td></tr>
<tr><td></td><td>ကုမ္ပဏီ၏အသားတင် အမြတ်</td><td>- ကျပ် ၃၂၇.၉၉ သန်း</td></tr>
<tr><td>၁၂။</td><td>နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ် (၆)နှစ်မြောက်</td><td></td></tr>
<tr><td></td><td>ဝင်ငွေခွန်</td><td>- ကျပ် ၁၀၉.၃၃ သန်း</td></tr>
<tr><td></td><td>ကုန်သွယ်လုပ်ငန်းခွန်</td><td>- ကျပ် ၁၅၆.၁၉ သန်း</td></tr>
<tr><td>၁၃။</td><td>လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်)</td><td>- ၁၀၀,၀၀၀ kWh</td></tr>
<tr><td>၁၄။</td><td>နှစ်စဉ်ထုတ်လုပ်မှု ပုံမှန်နှစ် (၆)နှစ်မြောက်</td><td>
<table>
<tr><td rowspan="2">ပစ္စည်း အမျိုးအစား</td><td rowspan="2">အရေအတွက် (တန်)</td><td colspan="2">ရောင်းချမည့် နည်းစနစ်</td><td colspan="2">ရောင်းချမည့် ဈေးနှုန်း</td></tr>
<tr><td>ပြည်ပ ၅၀%</td><td>ပြည်တွင်း ၅၀%</td><td>ပြည်ပ US$/Ton</td><td>ပြည်တွင်း Kyat/Ton</td></tr>
<tr><td>Rubber S4S (လေးဘက်ချော ရာဘာသစ်)</td><td>၁၀,၅၀၀</td><td>၅,၂၅၀</td><td>၅,၂၅၀</td><td>၃၃၀</td><td>၂၅၅,၀၀၀</td></tr>
</table>
</td></tr>
<tr><td>၁၅။</td><td>ကုမ္ပဏီမှ CSR ဆောင်ရွက်မည့်အစီအစဉ်</td><td>- လုပ်ငန်းမှ လည်ပတ်ဆောင်ရွက်ရာမှ ရရှိမည့် အသားတင် အမြတ်ငွေ၏ ၂% အား လူမှုရေးဆိုင်ရာတာဝန်ခံ ဆောင်ရွက်မှု (CSR) အတွက် အသုံးပြုဆောင်ရွက်သွားမည်ဖြစ်ကြောင်း တင်ပြ ထားပါသည်။</td></tr>
</table>

| | | |
|---|---|---|
| ၁၆။ | မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်မှု အစီအစဉ် | - စက်ရုံဝင်းအတွင်း မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်မှု အနေဖြင့် ရေဂါလံ (၅,၀၀၀) ဆန့် ရေလှောင်ကန်တည်ဆောက်ထားရှိမည် ဖြစ်ကြောင်း၊ မီးဘေးအန္တရာယ်ကာကွယ်ရန်အတွက် မီးသတ် ဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်မည် ဖြစ်ပါကြောင်း၊ ဌာနမှပို့ချသော သင်တန်းများကိုလည်း ဝန်ထမ်းများအား အလှည့်ကျ စေလွှတ်၍ တက်ရောက်စေမည် ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၇။ | အခြားတင်ပြချက် | - အောင်ဦး သစ်အခြေခံစက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက် (Aung Oo Wood Industry Company Limited) ၏ ကုမ္ပဏီမှတ်ပုံတင် လက်မှတ် (မိတ္တူ)၊ MOA, AOA (မိတ္တူ) တင်ပြထားပါသည်။<br>- ဆောက်လုပ်မည့် စက်ရုံအဆောက်အဦ ဓာတ်ပုံများ၊ မြေပုံများ တင်ပြထားပါသည်။<br>- ဒါရိုက်တာ စာရင်း၊ ဒါရိုက်တာအဖွဲ့ဝင်များ၏ မှတ်ပုံတင် မိတ္တူများ ကိုတင်ပြထားပါသည်။<br>- ငွေကြေး အထောက်အထားအဖြစ် ဒါရိုက်တာ ဦးသန်းညွန့် အမည် ဖြင့် Global Treasure Bank Ltd. ဘဏ်တွင် (၆-၁၀-၂၀၁၅) ရက်နေ့ အထိ ကျပ် ၃၀၀,၀၄၀,၈၄၀ ရှိကြောင်း တင်ပြထားပါ သည်။<br>- Exchange Rate အနေဖြင့် 1US $ = 1200 ကျပ်ဖြင့် တွက်ချက် တင်ပြထားပါသည်။ |
| ၁၈။ | စိစစ်တင်ပြချက် | - ကုမ္ပဏီအဆိုပြုတင်ပြလာသော မြေနေရာအား မွန်ပြည်နယ် အစိုးရ အဖွဲ့မှ၂၀၁၅ခုနှစ် အောက်တိုဘာလ ၅ရက်နေ့ ရက်စွဲဖြင့် ထုတ်ပေး ထားသည့် လယ်မြေမှတစ်ပါး လယ်ယာမြေအား အခြား နည်းဖြင့် အသုံးပြုရန် ခွင့်ပြုမိန့်တွင် အထပ်သား စက်ရုံ ဆောက်လုပ်ရန် မြေ အဖြစ် အသုံးပြုနိုင်ကြောင်း ဖော်ပြထားပါသည်။<br>- သထုံမြို့၊ ပြည်တွင်းအခွန်များဦးစီးဌာနမှ ဦးသန်းညွန့် အမည်ဖြင့် မြေဂရန်ထုတ်ပေးမှု စာအထောက်အထားတင်ပြထားပါသည်။ |

| | | |
|---|---|---|
| | | - မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း ၁၁၊ ပုဒ်မ (၂၀) အရ ခံစားခွင့်ရှိသော ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုပါရန် လျှောက်ထားစာ တင်ပြထားပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက - ၂/ မ-၂၃၂/ ၂၀၁၆ ( ၂၁၃ )
ရက်စွဲ ၊ ၂၀၁၆ ခုနှစ် မတ်လ ၇ ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့
တင်ပြသည့်အမှာစာ

အကြောင်းအရာ။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် Aung Oo Wood Industry Company Limited (အောင်ဦးသစ်အခြေခံစက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက်) မှ ရာဘာပင်အို သစ်များအား လေးဘက်ချော သစ်အဖြစ် ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြ လာခြင်းကိစ္စ

၁။ Aung Oo Wood Industry Company Limited (အောင်ဦးသစ်အခြေခံ စက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်) သည် မွန်ပြည်နယ်၊ သထုံခရိုင်၊ ကျိုက်ထိုမြို့နယ်၊ ကော့ဘိန်း ကျေးရွာအုပ်စု၊ ကွင်းအမှတ်-၁၄၇/စမိတ်ကွင်း၊ ဦးပိုင်အမှတ်- ၆/၁ ရှိ စုစုပေါင်း မြေ ၃.၀၃ ဧက ပေါ်တွင် ရာဘာပင်အို သစ်များအား လေးဘက်ချော သစ်အဖြစ်ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးသန်းညွှန့် (အဘ-ဦးလှရွှေ) မှ အဆိုပြုချက် တင်ပြလာပါသည်။

၂။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုသက်တမ်းမှာ ကနဦး နှစ် ၅၀ နှင့် ၁၀ နှစ် ၂ ကြိမ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၂ နှစ် ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၃။ လုပ်ငန်း၏ရင်းနှီးမြှုပ်နှံမှုပမာဏမှာစုစုပေါင်း ကျပ် ၁၁၀၆.၈၀ သန်း ဖြစ်ပြီး အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုအခြေအနေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | ကျပ် (သန်း) |
|---|---|---|
| (က) | ငွေသား | ၁၀၀.၀၀ |
| (ခ) | စက်ပစ္စည်း | ၆၁၂.၃၆ (US$ ၀.၅၁ သန်း အပါအဝင်) |
| (ဂ) | မြေ/အဆောက်အဦ | ၃၈၄.၈၄ |
| (ဃ) | ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းများ | ၉.၆၀ |
| | **စုစုပေါင်း** | ၁၁၀၆.၈၀ (US$ ၀.၅၁ သန်း အပါအဝင်) |

၄။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်းဦးရေ ၆၉ ဦး နှင့် ပြည်ပဝန်ထမ်း ဦးရေ ၄ ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၁၂၀,၀၀၀ နှင့် ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၃၀၀,၀၀၀ ဖြစ်ကြောင်းနှင့် ပြည်ပဝန်ထမ်းတစ်ဦး၏ လစာမှာ US$ ၂,၀၀၀ ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိသောထုတ်ကုန်များကို ပြည်ပ ၅၀%နှင့် ပြည်တွင်း ၅၀% ရောင်းချမည်ဖြစ်ပါသည်။ ပုံမှန်နှစ်(၆နှစ်မြောက်)တွင် ထုတ်လုပ်နိုင်မှုနှင့် ရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| ပစ္စည်း အမျိုးအစား | အရေအတွက် (တန်) | ရောင်းချမည့်နည်းစနစ် | | ရောင်းချမည့်ဈေးနှုန်း | |
|---|---|---|---|---|---|
| | | ပြည်ပ ၅၀% | ပြည်တွင်း ၅၀% | ပြည်ပ US$/ Ton | ပြည်တွင်း Kyat/Ton |
| Rubber S4S (လေးဘက်ချော ရာဘာသစ်) | ၁၀,၅၀၀ | ၅,၂၅၀ | ၅,၂၅၀ | ၃၃၀ | ၂၄၅,၀၀၀ |

၆။ လုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ကုမ္ပဏီမှ ၆ နှစ်မြောက်တွင် ရရှိမည့်ဝင်ငွေနှင့် အသုံး စရိတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပြီး အမေရိကန်တစ်ဒေါ်လာလျှင် ၁၂၀၀ ကျပ်နှုန်း ဖြင့်တွက်ချက်ထားပါသည်-

(က) ဝင်ငွေ - ကျပ် ၃,၁၂၃.၇၅ သန်း

(ခ) အသုံးစရိတ် - ကျပ် ၂၇၉၅.၇၆ သန်း

(ဂ) အသားတင်အမြတ် - ကျပ် ၃၂၇.၉၉ သန်း

၇။ နိုင်ငံတော်မှ ပုံမှန်နှစ် (၆ နှစ်မြောက်) တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ၁၀၉.၃၃ သန်းနှင့် ကုန်သွယ်လုပ်ငန်းခွန် ကျပ် ၁၅၆.၁၉ သန်းရရှိမည်ဖြစ်ပါသည်။ အဆိုပြု လုပ်ငန်း၏ အရင်းကြေကာလမှာ ၇ နှစ် နှင့် ၂ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ် နှုန်း (IRR) မှာ ၁၇% ဖြစ်ပါသည်။

၈။ အဆိုပြုချက်နှင့် စပ်လျဉ်း၍ မွန်ပြည်နယ်အစိုးရအဖွဲ့၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာန၊ ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်း ဝန်ကြီးဌာနနှင့် စက်မှုဝန်ကြီးဌာနသို့ သဘောထားမှတ်ချက်များ တောင်းခံခဲ့ရာ အောက်ပါအတိုင်း သဘောထားပြန်ကြားလာပါသည်-

(က) **မွန်ပြည်နယ်အစိုးရအဖွဲ့** မှ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်နေရာသည် လက်ရှိ မြို့ပြ စီမံကိန်းကိုထိခိုက်နိုင်ခြင်းမရှိကြောင်း၊ မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့်

ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေကြောင်း၊ အဆိုပြု လုပ်ငန်း ဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝ ပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိကြောင်း သဘောထားပြန်ကြား ထားပါသည်။

နောက်ဆက်တွဲ-က

( ခ ) ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန၊ ရင်းနှီးမြှုပ်နှံမှု ဌာနဆိုင်ရာ ပူးပေါင်း လုပ်ငန်းအဖွဲ့မှ လေးဘက်ချော သစ်များ ထုတ်လုပ်ခြင်းလုပ်ငန်းကြောင့် ကုန်ကြမ်းပစ္စည်းများ သိုလှောင်ခြင်း၊ လုပ်ငန်းအဆင့်ဆင့်မှ စွန့်ပစ်ပစ္စည်းနှင့် စွန့်ပစ်အရည်များ၊ အနံ့အသက်များကြောင့် ပတ်ဝန်းကျင်ရှိ ရေထု၊ လေထု၊ မြေထု ညစ်ညမ်းမှု ဖြစ်ပေါ်စေနိုင်ခြင်း၊ စက်ရုံလည်ပတ်ခြင်းမှ ထွက်ရှိလာမည့် ဆူညံသံများ၊ အမှုန်အမွှားများကြောင့် လေထုညစ်ညမ်းခြင်း၊ အသံညစ်ညမ်းခြင်း နှင့် စက်ရုံဧရိယာအနီး ပတ်ဝန်းကျင်ရှိ ပြည်သူများအား ကျန်းမာရေးကို ထိခိုက် စေနိုင်ခြင်း၊ သစ်လုံးခွဲရာတွင် လွှများ၊ အခြားစက်ကိရိယာများအား စနစ်တကျ တပ်ဆင်ခြင်းမရှိပါကအလုပ်သမားများ မတော်တဆဘေးအန္တရာယ် ဖြစ်စေနိုင် ခြင်းစသည့် ပတ်ဝန်းကျင် ထိခိုက်မှု ပြဿနာများ ဖြစ်ပေါ်စေနိုင်ပါကြောင်း၊ သို့ဖြစ်ပါ၍ အဆိုပြုလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်မှု များကိုလျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာ ဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် (Corporate Social Responsibility –CSR)အတွက် အသားတင် အမြတ်ငွေ၏ (၂%) အား အသုံးပြုခြင်းတို့အပါအဝင် ကတိကဝတ်များအား လိုက်နာ အကောင် အထည်ဖော် ဆောင်ရွက်ရန်၊ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးတို့အတွက် ကနဦး ပတ်ဝန်းကျင် ဆန်း စစ်ခြင်း (Initial Environmental Examination-IEE) ကို ဆောင်ရွက်ပြီး အစီရင်ခံစာ ရေးဆွဲတင်ပြရန်၊ အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံး ဖြစ်စေမည့် လုပ်ငန်း ဆောင်ရွက်မည့် အစီအစဉ် ၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည် စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan – EMP) အား ရေးဆွဲ တင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

အဆိုပြု လုပ်ငန်းသည် သစ်အခြေခံစက်ရုံ တည်ထောင်ပြီး ဆောင်ရွက် ခြင်းကြောင့် သစ်တော ဦးစီးဌာနသို့ ခွင့်ပြုချက်လိုင်စင် လျှောက်ထားရန် လိုအပ်ပါပြီး သစ်တောဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ဆောင်ရွက်ရန်၊ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြား ချက်များနှင့်အညီ လိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်၊ သက်ဆိုင်ရာ တိုင်း ဒေသကြီး အစိုးရအဖွဲ့နှင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများ ရယူ ဆောင်ရွက်ရန် သဘောထား မှတ်ချက်ပြန်ကြား ထားပါသည်။ နောက်ဆက်တွဲ-ခ

(ဂ) လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန မှ အဆိုပြုတင်ပြလာသော မြေနေရာ သည် ၂၀၁၂ ခုနှစ် လယ်ယာမြေ ဥပဒေ ပုဒ်မ (၃၀) ပုဒ်မခွဲ (ခ) အရ လယ်မြေမှတစ်ပါး အခြားနည်း အသုံးပြုရန် ခွင့်ပြုမိန့်ရရှိထားပြီး ဖြစ်ခြင်း၊ နှစ်(၃၀) မြေငှားဂရန် ရထားပြီး ဖြစ်ခြင်းတို့ကြောင့် ဂရန်ခွင့်ပြုချက်များ နှင့် အညီ ဆက်လက် ဆောင်ရွက်ရန်ဖြစ်ပါကြောင်း သဘောထား ပြန်ကြားထားပါသည်။ နောက်ဆက်တွဲ-ဂ

(ဃ) **စက်မှုဝန်ကြီးဌာန** မှ လျှပ်စစ်သွယ်တန်းအသုံးပြုမှုနှင့် ဘွိုင်လာအသုံးပြုမှုများကို လျှပ်စစ်ဥပဒေ၊ ဘွိုင်လာ ဥပဒေတို့နှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးတို့ အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန်လိုအပ်ပါကြောင်း၊ ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေနှင့်အညီ စက်မှု မှတ်ပုံတင် လျှောက်ထား ဆောင်ရွက်ရန်လိုအပ်ပါကြောင်း သဘောထား မှတ်ချက် ပြန်ကြား ထားပါသည်။ နောက်ဆက်တွဲ-ဃ

၉။ ငွေကြေးအထောက်အထားအဖြစ် ဒါရိုက်တာ ဦးသန်းညွှန့်အမည်ဖြင့် Global Treasure Bank Ltd. ဘဏ်တွင် (၆-၁၀-၂၀၁၅) ရက်နေ့အထိ ကျပ် ၃၀၀,၀၄၀,၈၄၀ ရှိကြောင်း တင်ပြထားပါ သည်။

၁၀။ အောင်ဦး သစ်အခြေခံစက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက် (Aung Oo Wood Industry Co., Ltd.) သည် ကုမ္ပဏီမှတ်ပုံတင် အမှတ်-၄၂၃၆/၂၀၁၄-၂၀၁၅(၂၇-၁၁-၂၀၁၄)ဖြင့် ဖွဲ့စည်း မှတ်ပုံတင်ထားပြီး ကုမ္ပဏီ မှတ်ပုံတင် လက်မှတ်မိတ္တူ၊ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း တို့ကို တင်ပြထားပါသည်။ အဆိုပြု လုပ်ငန်းသည် မြန်မာနိုင်ငံသား၂ ဦးဖြင့် ဖွဲ့စည်း တည်ထောင် ထားသော ကုမ္ပဏီဖြစ်ပြီး၊ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် လုပ်ငန်းခွင်အတွင်း သန့်စင်ခန်းများ ထားရှိခြင်း၊ ရေအလုံအလောက် အသုံးပြုစေခြင်း၊ အမှိုက်စွန့်ပစ်ရန် နေရာများ ထားရှိခြင်း၊ လုပ်ငန်း ပတ်ဝန်းကျင် အား သန့်ရှင်းရေးလုပ်ငန်းများ ဆောင်ရွက်ခြင်း၊ ရေနုတ်မြောင်းများကို ရေစီး ရေလာ ကောင်းမွန်

သော အမှိုက်များကိုလည်း စနစ်တကျ စွန့်ပစ်မည်ဖြစ်ပါကြောင်း၊ စက်ရုံဝင်းအတွင်း မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်မှု အနေဖြင့် ရေဂါလံ (၅,၀၀၀)ဆန့် ရေလှောင်ကန်တည်ဆောက်ထားရှိမည် ဖြစ်ကြောင်း၊ မီးဘေးအန္တရာယ်ကာကွယ်ရန်အတွက် မီးသတ်ဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်မည် ဖြစ်ပါကြောင်း၊ ဌာနမှ ပို့ချသော သင်တန်းများကိုလည်း ဝန်ထမ်းများအား အလှည့်ကျစေလွှတ်၍ တက်ရောက် စေမည် ဖြစ်ကြောင်း ဝန်ခံကတိပြုစာများ တင်ပြထားပါသည်။

၁၁။ လုပ်ငန်းဆောင်ရွက်ရာတွင် စက်ရုံဝန်ထမ်း အလုပ်သမားများအတွက် စီစဉ်ဆောင်ရွက် ထားရှိမှု အစီအစဉ်၊ လစာငွေတစ်နှစ်လျှင် ဝင်ငွေကျပ် သိန်း ၂၀ ထက် ကျော်လွန်ပါက ဝင်ငွေခွန်ပေးဆောင်မည့် အစီအစဉ်၊ ရေဆိုးစွန့်ပစ်မည့်အစီအစဉ်နှင့် လုပ်ငန်းသဘာဝ ရှင်းလင်းချက်တို့ကို တင်ပြထားပါသည်။

၁၂။ လုပ်ငန်းဆောင်ရွက်ရာတွင် နိုင်ငံတော်အစိုးရ၏ ပင်မဓာတ်အားလိုင်းမှ လျှပ်စစ်ဓာတ်အားရယူ သုံးစွဲမည့်အပြင် Generator (25KVA) (၁)လုံးနှင့် (1000 KVA) (၃)လုံးတို့ဖြင့် လျှပ်စစ်ဓာတ်အား ရယူသုံးစွဲမည်ဖြစ်ပါကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၁၃။ အောင်ဦး သစ်အခြေခံစက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက် (Aung Oo Wood Industry Co., Ltd.) မှ လူမှုရေးဆိုင်ရာတာဝန်ခံ ဆောင်ရွက်မှုများအတွက် နှစ်စဉ်အမြတ်ငွေ၏ ၂% အား CSR ရန်ပုံငွေအဖြစ် ထားရှိသုံးစွဲမည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၄။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၁ ရက်နေ့တွင် ကျင်းပပြုလုပ် သည့် ၅/၂၀၁၆ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၅။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း ၁၁၊ ပုဒ်မ ၂၀ (က၊ ဂ၊ ဃ၊ စ၊ ဆ၊ ဇ၊ ည၊ ဋ) တို့အရ အခွန်ကင်းလွတ်ခွင့်(သို့မဟုတ်) သက်သာခွင့်များကို တင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည်ဖြစ်ပါသည်။

**စိစစ်တင်ပြချက်**

၁၆။ (က) ကုမ္ပဏီအဆိုပြုတင်ပြလာသော မြေနေရာအား မွန်ပြည်နယ် အစိုးရ အဖွဲ့မှ ၂၀၁၅ခုနှစ် အောက်တိုဘာလ ၅ရက်နေ့ ရက်စွဲဖြင့် ထုတ်ပေးထားသည့် လယ်မြေမှတစ်ပါး လယ်ယာမြေအား အခြား နည်းဖြင့် အသုံးပြုရန် ခွင့်ပြုမိန့်တွင် အထပ်သား စက်ရုံ ဆောက်လုပ်ရန် မြေ အဖြစ် အသုံးပြုနိုင်ကြောင်း ဖော်ပြထားပါသည်။

(ခ) ဦးသန်းညွန့်အမည်ဖြင့် သထုံမြို့၊ ပြည်တွင်းအခွန်များဦးစီးဌာနမှ မြေ ဂရန်ထုတ်ပေးမှု စာအထောက်အထား တင်ပြထားပါသည်။

ဆုံးဖြတ်ရန်အချက်

၁၇။ Aung Oo Wood Industry Company Limited (အောင်ဦးသစ်အခြေခံ စက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်) မှ မွန်ပြည်နယ်၊ သထုံခရိုင်၊ ကျိုက်ထိုမြို့နယ်၊ ကော့ဘိန်း ကျေးရွာအုပ်စု၊ ကွင်းအမှတ်-၁၄၇/စမိတ်ကွင်း၊ ဦးပိုင်အမှတ်- ၆/၁ ရှိ စုစုပေါင်း မြေ ၃.၁၃ ဧက ပေါ်တွင် ရာဘာပင်အို သစ်များအား လေးဘက်ချော သစ်အဖြစ်ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးသန်းညွန့် (အဘ-ဦးလှရွှေ) မှ အဆိုပြုချက် တင်ပြလာခြင်း အပေါ် ခွင့်ပြုရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူ
ရုံးလက်ခံ/မျှောစာတွဲ



MIC memo